၁၁။ Anhui Conch Cement Co.,Ltd. သည် ၈-၆-၂၀၁၄ ရက်စွဲဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် တည်ထောင်ထားသည့် ကုမ္ပဏီ မှတ်ပုံတင် အထောက်အထားနှင့် ငွေရေးကြေးရေးအထောက် အထားအဖြစ် ယွမ် ၁,၃၃၉,၈၄၁,၀၇၀.၅၉ ရှိကြောင်း၊ Myint Investment Group Co.,Ltd. သည် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် အမေရိကန်ဒေါ်လာ ၁၅၀,၀၀၀.၀၀ ရှိကြောင်းနှင့် Myint Group ၏ ငွေကြေး ပိုင်ဆိုင်မှု အထောက်အထားများ၊ ဒါရိုက်တာ အဖွဲ့ဝင် များ၏ Passport မိတ္တူများ ကို တင်ပြထားပါသည်။

၁၂။ Myanmar Conch Cement Co.,Ltd. မှ လုပ်ငန်းဆောင်ရွက်ပုံအဆင့်ဆင့်၊ ဝန်ထမ်းသက်သာ ချောင်ချိရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များနှင့် ရပ်ရွာအကျိုးပြု အစီအစဉ် (Corporate Social Responsibility) များကို တင်ပြထားပါသည်။

၁၃။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် ပတ်သက်၍** ကုမ္ပဏီမှ စက်ရုံနှင့် စက်ရုံပတ်ဝန်းကျင်၊ လူပုဂ္ဂိုလ်များနှင့် စက်ပစ္စည်းများ မီးလောင်မှုမဖြစ်ပွားစေရန်ကြိုတင် ကာကွယ်ထားရှိသည့် အစီအစဉ်များ၊ Fire Fighting Supervisory Teams များထားရှိကာ မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြားပေး၍ တာဝန်များချထားပေးမည်ဖြစ်ကြောင်းနှင့် Rescue and Materials Moving Teams များ ဖွဲ့စည်းကာ အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါ ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကို ခံစားခွင့် ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၅၀/၂၀၁၄ ဖြင့်ထုတ်ပြန်ထားသည့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက်ရယူရန်လိုအပ်သည့် စီးပွားရေးလုပ်ငန်းအမျိုးအစား လုပ်ငန်းအမျိုး အစားဖြစ်ပါသည်။

၁၆။ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့ ၏ ၁/၂၀၁၅ အစည်းအဝေးသို့ တင်ပြခဲ့ပါ သည်။

**စိစစ်တင်ပြချက်**

၁၇။ (က) Myanmar Conch Cement Co.,Ltd. မှ ဈေးငွေအတိုးနှုန်း ၆.၄% ပေါ်တွင် withholding tax ၁၅% ကို ပေးဆောင်မည်ဖြစ်ကြောင်းနှင့် အတိုးနှုန်းတွက်ချက်မှုမှာ ခန့်မှန်း ငွေပမာဏဖြင့်သာ တွက်ချက်ထားသော ကြောင့် အမှန်တကယ်ချေးငွေပြန်ဆပ်မည့် နှစ်မှစ၍ withholding tax အား တွက်ချက်တင်ပြပေးမည်ဖြစ် ကြောင်း တင်ပြထားပါသည်။

(ခ) ဘိလပ်မြေအတွက်လိုအပ်သော လျှပ်စစ်ဓာတ်အားလိုအပ်ချက်အား နိုင်ငံတော်မှ ရယူဆောင် ရွက်ရမည်ဖြစ်ပါသည်။ စက်ရုံအတွက် လျှပ်စစ်ပမာဏ လုံလောက်အောင် မရရှိနိုင်သည့် ပတ်ဝန်းကျင်အနေအထားအရ လိုအပ်သည့် လျှပ်စစ်ပမာဏ ပြည့်ဝစွာရရှိရေး သေချာစေရန် စီမံကိန်းအနေဖြင့် လေလွင့်ဆုံးရှုံးမည့် စွန့်ပစ်ပစ္စည်းများမှ စွမ်းအင်များအား ပြန်လည်ဖမ်းယူ အသုံးပြုမည့် Captive Power Station တည်ဆောက်ဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ပစ်အပူ သုံးလျှပ်ထုတ်စက် Waste Heat Power Generation System ကိုအသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) ဘိလပ်မြေများကို Dry Process စနစ်ဖြင့် ထုတ်လုပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

ကန့်သတ်

၅

**ဆုံးဖြတ်ရန်အချက်**

၁၈။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Conch Cement Co.,Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်မြို့နယ်၊ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ အမှတ်-၃၃၊ အကြီးစားစက်မှုလုပ်ငန်း (ကျောက်ဆည် ဘိလပ်မြေစက်ရုံ) တွင် ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ်ခွင့်ပြုရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

**ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Myanmar Conch Cement Co.,Ltd.** | **Anhui Conch Cement Co.,Ltd.** Represented by: | No. (39), Wenhua Road, Wuhu City, Anhui Province, People's Republic of China |
| | | (၁) Mr. Xia Xian Qing<br>Director<br>Chinese<br>G 50880677 | Room (39), Wenhua Road, Wuhu City, Anhui Province, People's Republic of China |
| | | (၂) Mr. Li Xin<br>Director<br>Chinese<br>G 38856883 | Room (39), Wenhua Road, Wuhu City, Anhui Province, People's Republic of China |
| | | **Myint Investment Group Co., Ltd.** Represented by: | No.297, Shwe Dagon Pagoda Road, Phayar Gyi Quarter, Dagon Township, Yangon |
| | | (၃) Daw Nan Lin Lin Tun<br>Director<br>Myanmar<br>1/ Ma Ka Ta (N) 000404 | No.299, Shwe Dagon Pagoda Road, Phayar Gyi Quarter, Dagon Township, Yangon |
| | | (၄) U Aung Aung Myint<br>Director<br>Myanmar<br>9/ Ma Ka Na (N) 066281 | No.297, Shwe Dagon Pagoda Road, Phayar Gyi Quarter, Dagon Township, Yangon |
| | | (၅) U Sai Myo Myint<br>Director<br>Myanmar<br>13/ La Ya Na (N) 089039 | No.297, Shwe Dagon Pagoda Road, Phayar Gyi Quarter, Dagon Township, Yangon |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉-၄၃၁၉၉၄၈၈ | |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါက်တာစိန်ကျော် | |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်း များ | - ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း | |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

FROM :MDYAFAYA FAX NO. : 28 Jan. 2015 11:20AM P1

M-175
2811

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၅ /၃၂ ဦး ၆(၀၀၈ )
ရက် စွဲ ၊ ၂၀၁၅ခုနှစ်၊ ဇန်နဝါရီလ ၂၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၁.၁.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက-၃ / န-၁၁၃၂ / ၂၀၁၅ (၂)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Anhui Conch Cement Co.,Ltd မှ ၄၅ % နှင့်မြန်မာနိုင်ငံ Myint Investment Group Co.,Ltd မှ ၅၅ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Conch Cement Co.,Ltd တည်ထောင်ကာ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုအောက်ရှိ အမှတ်(၃၃)အကြီးစားစက်မှုလုပ်ငန်း (ကျောက်ဆည်ဘိလပ်မြေစက်ရုံ)၊ မြေဧရိယာ(၄၄၃)ဧက (၁၇၅၂၂၈၀.၃၈ စတုရန်းမီတာ)အား ငှားရမ်း၍ ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းကို BOT စနစ်ဖြင့် ဆောင်ရွက်လိုခြင်းနှင့်ပတ်သက်၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့်ပတ်သက်ပြီး BOT စနစ်ဖြင့် ဆောင်ရွက်သည့် ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းသည် ဒေသဖွံ့ဖြိုးတိုးတက်မည့် လုပ်ငန်းကြီးတစ်ခုဖြစ်ပါ၍ ဒေသအနေဖြင့် အောက်ဖော်ပြပါအကျိုးကျေးဇူးများ ရရှိနိုင်မည်ဖြစ်ပါသည် -

(က) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်ရေးအထောက်အကူဖြစ်စေပါသည် ၊

(ဂ) အဆိုပါ လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါသည် ၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ ။

၃။ သို့ဖြစ်ပါ၍ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Anhui Conch Cement Co.,Ltd နှင့် မြန်မာနိုင်ငံ Myint Investment Group Co.,Ltd တို့ ပူးပေါင်းဆောင်ရွက်သည့် BOT စနစ်ဖြင့် ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် (၂၃.၁.၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၁/၂၀၁၅) ဆုံးဖြတ်ချက် အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၄၂၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဇန်နဝါရီလ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **<u>သဘောထားမှတ်ချက် ပြန်ကြားခြင်း</u>**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၁ -၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၃/န-၁၁၃၂/၂၀၁၅(၃)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Anhui Conch Cement Co., Ltd မှ (၄၅%) နှင့် မြန်မာနိုင်ငံ Myint Investment Group Co., Ltd မှ (၅၅%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Conch Cement Co., Ltd တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး ၊ ကျောက်ဆည်မြို့နယ်၊ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ အမှတ်(၃၃)၊ အကြီးစားစက်မှုလုပ်ငန်း (ကျောက်ဆည် ဘိလပ်မြေစက်ရုံ) ကို မြေ(၄၃၃)ဧက ( ၁၇၅၂၂၉၀.၃၈ စတုရန်းမီတာ)အား ငှားရမ်း၍ ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှု ကာလမှာ (၃၀)နှစ်ဖြစ်၍ တည်ဆောက်ရေးကာလမှာ လ(၂၀)ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ၊ မီးဘေးကာကွယ်ရေးအစီအစဉ်များအား ဖော်ပြထားသော်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်မည့် အသေးစိတ် အစီအစဉ်များအား ဖော်ပြထားခြင်း မရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ဘိလပ်မြေထုတ်လုပ်ရာတွင် Limestone၊ Silicon၊ Aluminum နှင့် Iron material စသည့် ဓာတုပစ္စည်းများအား အရောင်ချွတ်ခြင်း ၊ ကြိတ်ချေခြင်းတို့ ပြုလုပ်ကာ အပူပေးဆောင်ရွက်ရသဖြင့် စွန့်ပစ်ရေနှင့်စွန့်ပစ်ပစ္စည်းများထွက်ရှိ၍ ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်းနှင့်လုပ်သားများ၏ ကျန်းမာရေးနှင့်စပ်လျဉ်းသည့် အန္တရာယ်များဖြစ်ပေါ်စေနိုင်ခြင်း၊ ထုံးကျောက်တူးဖော်ရေးလုပ်ငန်း ဆောင်ရွက်ရာတွင် မိုင်းခွဲခြင်းနှင့် မြေတူးစက်များအသုံးပြုခြင်းတို့ကြောင့်

အသံဆူညံမှုနှင့် တိရစ္ဆာန်များ၏ နေထိုင်ကျက်စားသည့်နေရာများပျက်စီးနိုင်ခြင်း၊ စက်သုံးဆီများနှင့် စွန့်ပစ်ပစ္စည်းများကြောင့် မြေထုညစ်ညမ်းမှု၊ ကျောက်တူးဖော်ခြင်းနှင့် သယ်ယူပို့ဆောင်ရေးလုပ်ငန်းဆောင်ရွက်ရာမှ ဖုန်နှင့်ကျောက်မှုန့်များ ထွက်ရှိနိုင်ခြင်းတို့ကြောင့် လေထုညစ်ညမ်းမှုအစရှိသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Anhui Conch Cement Co., Ltd မှ (၄၅%) နှင့် မြန်မာနိုင်ငံ Myint Investment Group Co., Ltd မှ (၅၅%) ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Conch Cement Co., Ltd တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး ၊ ကျောက်ဆည်မြို့နယ် ၊ စက်မှုဝန်ကြီးဌာန ၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ အမှတ်(၃၃)၊ အကြီးစား စက်မှုလုပ်ငန်း (ကျောက်ဆည် ဘိလပ်မြေစက်ရုံ) ကို မြေ(၄၃၃)ဧကေ ( ၁၇၅၂၂၈၀.၃၈ စတုရန်း မီတာ)အား ငှားရမ်း၍ ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စက်ရုံတည်ဆောက်မည့် နေရာ နှင့် ကျောက်ထုတ်လုပ်မည့် တောင်များ၏ မြေမျက်နှာသွင်ပြင်လက္ခဏာ ၊ မြေပြင်တည်ငြိမ်မှုအနေအထား ၊ မြေအသုံးချမှု၊ မြေပြိုမှုနှင့် တောင်ပြိုမှုများ ရှိနိုင်မရှိနိုင်တို့ကို ဆန်းစစ်ရန်၊

(ခ) လေထုညစ်ညမ်းမှုလျော့ကျစေရေးနှင့်သက်ဆိုင်သည့် လုပ်ငန်းများဆောင်ရွက်ထားရှိရန်နှင့် ကျောက်တူးဖော်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်ဖြင့် ဆောင်ရွက်ရန် နှင့် သယ်ယူပို့ဆောင်ရေး လုပ်ငန်းကြောင့်ဖြစ်ပေါ်နိုင်သည့် ထိခိုက်နိုင်မှုများ လျော့နည်းစေမည့် အစီအစဉ်များဆောင်ရွက်ရန်၊

(ဂ) အဆိုပြုလွှာပါ လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများမှ ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်အစီအစဉ်များ ရေးဆွဲလိုက်နာဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး နှင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) လုပ်ငန်းဆောင်ရွက်ရန်၊

(င) အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့် အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန်နှင့် အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(စ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့်၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

01658/4/

M.96
15/6

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန်ကြီးရုံး**

နေပြည်တော်

စာအမှတ်၊ ၆ ခွဲ (၁) ၁၅ (၁၅၀၉ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/န - ၁၁၃၂/၂၀၁၅ (၄)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းစာဖြင့် တောင်းခံထားသည့် Myanmar Conch Cement Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဘိလပ်မြေထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြုရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

13/1/15

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

သတ္တုတွင်းဝန်ကြီးဌာန

(မင်းမင်းဦး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

သတ္တုတွင်းဦးစီးဌာန

D:\2015 Section-I\6 Word\doc.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၄ -၂၀၁၅(၃၉၂၂)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **အမှတ်(၃၃)အကြီးစားစက်ရုံ(ကျောက်ဆည်)အား ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခွင့်ပြုရေးကိစ္စ**

ရည်ညွှန်းချက်။ နိုင်ငံတော်သမ္မတရုံး၏ ၄.၁၁.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၅၄(၁)/၇/သမ္မတရုံး

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ အမှတ်(၃၃)အကြီးစားစက်ရုံ(ကျောက်ဆည်)အား Myint Investment Group Co.,Ltd.(Myanmar) & Anhui Conch Cement Co., Ltd.(China)နှင့် ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့် (၂၀+၅+၅)နှစ် အကျိုးတူပူးပေါင်းဆောင်ရွက်ခွင့်ပြုပါရန် ၃၀.၁၀.၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ်(၃၃/၂၀၁၄)သို့ တင်ပြခဲ့ခြင်းအပေါ် **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပြီး ဆောင်ရွက်သွားရန်** ဟု နိုင်ငံတော်သမ္မတရုံးမှ ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ Myint Investment Group Co.,Ltd. နှင့် တရုတ်နိုင်ငံမှ Anhui Conch Cement Co., Ltd. တို့သည် ဖက်စပ်ကုမ္ပဏီ Myanmar Conch Cement Co.,Ltd အမည်ဖြင့် လုပ်ငန်းများ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ အဆိုပါကုမ္ပဏီမှ အမှတ်(၃၃)အကြီးစားစက်ရုံ(ကျောက်ဆည်)အား Product Sharing စနစ်ဖြင့်ဆောင်ရွက်ရာတွင် ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းကြီးကြပ်မှုရှိ အမှတ်(၂)ပလတ်စတစ်စက်ရုံ(ကျောက်ဆည်)ကို သီးခြားငှားရမ်းဆောင်ရွက်သွားရန် သဘောတူညီထားပြီးဖြစ်ရာ အဆိုပါစက်ရုံအတွက် ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီသို့တင်ပြပြီးပါက နိုင်ငံတော်သမ္မတရုံး၏ ညွှန်ကြားချက်နှင့်အညီ ဆက်လက်တင်ပြဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ သို့ပါ၍ အမှတ်(၃၃)အကြီးစားစက်ရုံ(ကျောက်ဆည်)ကို Myanmar Conch Cement Co., Ltd. နှင့် ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်စနစ်ဖြင့် (၂၀+ ၅+ ၅)နှစ် အကျိုးတူပူးပေါင်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ကုမ္ပဏီ၏အဆိုပြုလွှာအား ပူးတွဲပေးပို့အပ်ပါသည်။

၂၄.၁၁.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

D:\2014\Nov(14)mm.doc-90

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃ - စမ(၂) ၂၀၁၄-၂၀၁၅( ၂၇၇၀ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်

အကြောင်းအရာ။ **အမှတ် (၃၃) အကြီးစားစက်ရုံ(ကျောက်ဆည်)၏ စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၅.၉.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၂(၅)/ ၄-၄၆/နပတ(၇၄၄)

၁။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ အမှတ်(၃၃)အကြီးစားစက်ရုံ(ကျောက်ဆည်) အား Myint Investment Group Co., Ltd. & Anhui Conch Cement Co., Ltd. (Operator) နှင့် B.O.T စနစ်ဖြင့်အကျိုးတူဆောင်ရွက်ရာတွင် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးမည့် စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှလေ့လာစိစစ်ပြီး သုံးသပ်အကြံပြုချက်များကို ရည်ညွှန်းချက်ပါစာဖြင့်ပြန်ကြားလာပါသည်။

၂။ သို့ပါ၍ အမှတ်(၃၃)အကြီးစားစက်ရုံ(ကျောက်ဆည်)အား Myint Investment Group Co., Ltd. & Anhui Conch Cement Co., Ltd. (Operator)နှင့် B.O.T စနစ်ဖြင့်အကျိုးတူဆောင်ရွက်ရာတွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးမည့်စာချုပ်(မူကြမ်း)ကို **ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သုံးသပ်အကြံပြုချက်နှင့်အညီ ပြင်ဆင်ပြုစုပြီး** ပြည်ထောင်စုဝန်ကြီးရုံးသို့ ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

၉.၉.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(လှမိုး၊ ရုံးအဖွဲ့မှူး)

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

လျှို့ဝှက်

D:\2014\Sep(14)mm.doc-28

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၄ (၁) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ နိုဝင်ဘာလ ၄ ရက်

သို့

စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **ခွဲဝေခံစားသည့်စနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခွင့်ကိစ္စ**

ရည် ညွှန်း ချက် ။ ယင်း၏ ၂၀-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂၄-စမ (၂) ၂၀၁၄-၂၀၁၅ (၃၄၁၀)

စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ အမှတ် (၃၃) အကြီးစားစက်ရုံ (ကျောက်ဆည်) ကို Myint Investment Group Co.,Ltd(Myanmar) & Anhui Conch Cement Co.,Ltd (China) နှင့်ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် (၂၀+၅+၅) နှစ် အကျိုးတူပူးပေါင်းဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြပြီး ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

**မိတ္တူကို**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

သမ္မတရုံးဝန်ကြီးဌာန(၅)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

# Myanmar Conch Cement Co., Ltd

Local Employee Schedule of Kyaukse Cement Factory, Myanmar

Exhibit 5

| NO. | Position | Expected Salary USD/M | 2014.7 | 2014.8-2014.12 | | Expected Salary USD/M | 2015 | | Expected Salary USD/M | 2016 | | Expected Salary USD/M | 2017 | | Expected Salary USD/M | 2018 | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary |
| 1 | General Manager | 440 | 1 | 0 | 0 | 483 | 0 | 0 | 532 | 0 | 0 | 585 | 0 | 0 | 643 | 0 | 0 |
| 2 | Deputy- General Manager | 408 | 2 | 1 | 2041 | 449 | 1 | 5387 | 494 | 1 | 5926 | 543 | 1 | 6518 | 598 | 1 | 7170 |
| 3 | General Manager Assistant | 366 | 7 | 1 | 1831 | 403 | 1 | 4835 | 443 | 1 | 5318 | 487 | 1 | 5850 | 536 | 1 | 6435 |
| 4 | Head of department (Functional) | 324 | 7 | 3 | 4866 | 357 | 3 | 12846 | 393 | 4 | 18841 | 432 | 4 | 20725 | 475 | 4 | 22798 |
| 5 | Deputy-head / head Assistant(Functional) | 303 | 12 | 5 | 7587 | 334 | 6 | 24035 | 367 | 9 | 39657 | 404 | 9 | 43623 | 444 | 9 | 47985 |
| 6 | Head of Construction related Department | 324 | 0 | 0 | 0 | 357 | 0 | 0 | 393 | 0 | 0 | 432 | 0 | 0 | 475 | 0 | 0 |
| 7 | Deputy-head / head Assistant of Construction related Department | 303 | 0 | 1 | 1517 | 334 | 1 | 4006 | 367 | 0 | 0 | 404 | 0 | 0 | 444 | 0 | 0 |
| 8 | Project Management | 251 | 0 | 2 | 2511 | 276 | 2 | 6630 | 304 | 0 | 0 | 334 | 0 | 0 | 368 | 0 | 0 |
| 9 | Head of Operation Related Department | 335 | 12 | 0 | 0 | 368 | 0 | 0 | 405 | 0 | 0 | 446 | 0 | 0 | 490 | 0 | 0 |
| 10 | Deputy-head / department Head Assistant (Operation) | 303 | 29 | 4 | 6069 | 334 | 7 | 28040 | 367 | 6 | 26438 | 404 | 6 | 29082 | 444 | 6 | 31990 |
| 11 | Technical Supervisor (Operation) | 272 | 24 | 5 | 6802 | 299 | 5 | 17957 | 329 | 8 | 31604 | 362 | 8 | 34765 | 398 | 8 | 38241 |
| 12 | Business Supervisor(Functional) | 262 | 44 | 13 | 17005 | 288 | 13 | 44892 | 317 | 13 | 49381 | 348 | 13 | 54320 | 383 | 13 | 59752 |
| 13 | Section Chief(Operation) | 283 | 30 | 15 | 21190 | 311 | 20 | 74590 | 342 | 21 | 86152 | 376 | 21 | 94767 | 414 | 21 | 104244 |
| 14 | Safety Management (Operation) | 241 | 0 | 2 | 2407 | 265 | 4 | 12708 | 291 | 4 | 13979 | 320 | 4 | 15377 | 352 | 4 | 16914 |
| 15 | Operator(Key Position) | 230 | 12 | 12 | 13813 | 253 | 24 | 72933 | 279 | 42 | 140395 | 306 | 42 | 154435 | 337 | 42 | 169878 |
| 16 | Professionals(Functional) | 230 | 5 | 4 | 4604 | 253 | 20 | 60777 | 279 | 25 | 83569 | 306 | 29 | 106634 | 337 | 29 | 117297 |

## Myanmar Conch Cement Co., Ltd

Local Employee Schedule of Kyaukse Cement Factory, Myanmar | Exhibit 5

| NO. | Position | Expected Salary USD/M | 2014.7 | 2014.8-2014.12 | | Expected Salary USD/M | 2015 | | Expected Salary USD/M | 2016 | | Expected Salary USD/M | 2017 | | Expected Salary USD/M | 2018 | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary |
| 17 | Professionals(Operation) | 235 | 13 | 11 | 12950 | 259 | 19 | 59051 | 285 | 25 | 85468 | 313 | 25 | 94015 | 345 | 25 | 103416 |
| 18 | Salesman(Market) | 262 | 0 | 0 | 0 | 288 | 8 | 27626 | 317 | 14 | 53180 | 348 | 14 | 58498 | 383 | 14 | 64348 |
| 19 | Driver(Operation) | 230 | 24 | 24 | 27626 | 253 | 21 | 63816 | 279 | 44 | 147081 | 306 | 44 | 161789 | 337 | 44 | 177968 |
| 20 | Motor Mechanic | 209 | 5 | 5 | 5232 | 230 | 12 | 33151 | 253 | 15 | 45583 | 279 | 15 | 50141 | 306 | 15 | 55155 |
| 21 | Mechanical Worker | 209 | 11 | 27 | 28254 | 230 | 50 | 138130 | 253 | 79 | 240070 | 279 | 79 | 264077 | 306 | 79 | 290485 |
| 22 | Electrical Worker | 204 | 13 | 24 | 24487 | 224 | 28 | 75419 | 247 | 46 | 136293 | 272 | 46 | 149922 | 299 | 46 | 164914 |
| 23 | Driver(Logistics) | 194 | 10 | 10 | 9680 | 213 | 8 | 20443 | 234 | 8 | 22488 | 258 | 8 | 24736 | 283 | 8 | 27210 |
| 24 | Worker(Operation) | 183 | 183 | 295 | 270112 | 201 | 323 | 780780 | 222 | 327 | 869494 | 244 | 327 | 956443 | 268 | 327 | 1052088 |
| 25 | Support Staff(chef,etc.) | 167 | 6 | 6 | 5023 | 184 | 10 | 22101 | 203 | 12 | 29173 | 223 | 12 | 32090 | 245 | 12 | 35299 |
| 26 | Security(Factory) | 136 | 16 | 20 | 13604 | 150 | 28 | 50279 | 165 | 36 | 71109 | 181 | 36 | 78220 | 199 | 36 | 86042 |
| 27 | Support Staff( Canteen SerDeputy/ Cleaner) | 105 | 0 | 10 | 5232 | 115 | 12 | 16576 | 127 | 14 | 21272 | 139 | 14 | 23399 | 153 | 14 | 25739 |
| **Sub-total** | | | 466 | 500 | 494443 | | 626 | 1657008 | | 754 | 2222470 | | 758 | 2459425 | | 758 | 2705368 |

# Myanmar Conch Cement Co., Ltd  Exhibit 6

## Foreign Employee Schedule of Kyaukse Cement Factory, Myanmar

| NO. | Position | Expected Salary （USD/M） | 2014.7 | 2014.8-2014.12 | | Expected Salary （USD/M） | 2015 | | Expected Salary （USD/M） | 2016 | | Expected Salary （USD/M） | 2017 | | Expected Salary （USD/M） | 2018 | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary |
| 1 | General Manager | 439.50 | 1 | 1 | 2198 | 483.46 | 1 | 5801 | 531.80 | 1 | 6382 | 584.98 | 1 | 7020 | 643.48 | 1 | 7722 |
| 2 | Deputy- General Manager | 408.11 | 1 | 1 | 2041 | 448.92 | 1 | 5387 | 493.81 | 1 | 5926 | 543.20 | 1 | 6518 | 597.52 | 1 | 7170 |
| 3 | General Manager Assistant | 366.25 | 1 | 1 | 1831 | 402.88 | 1 | 4835 | 443.17 | 1 | 5318 | 487.48 | 1 | 5850 | 536.23 | 1 | 6435 |
| 4 | Department Head(Functional) | 324.40 | 3 | 4 | 6488 | 356.84 | 4 | 17128 | 392.52 | 4 | 18841 | 431.77 | 4 | 20725 | 474.95 | 4 | 22798 |
| 5 | Deputy-Department Head/ Department Head Assistant(Functional) | 303.47 | 2 | 4 | 6069 | 333.81 | 3 | 12017 | 367.20 | 3 | 13219 | 403.92 | 3 | 14541 | 444.31 | 3 | 15995 |
| 6 | Department Head(Construction) | 324.40 | 1 | 1 | 1622 | 356.84 | 1 | 4282 | 392.52 | 0 | 0 | 431.77 | 0 | 0 | 474.95 | 0 | 0 |
| 7 | Deputy-Department Head/ Department Head Assistant(Construction) | 303.47 | 0 | 1 | 1517 | 333.81 | 1 | 4006 | 367.20 | 0 | 0 | 403.92 | 0 | 0 | 444.31 | 0 | 0 |
| 8 | Project Management | 251.15 | 0 | 2 | 2511 | 276.26 | 2 | 6630 | 303.89 | 0 | 0 | 334.27 | 0 | 0 | 367.70 | 0 | 0 |
| 9 | Department Head(Operation) | 334.94 | 1 | 1 | 1675 | 368.43 | 5 | 22106 | 405.28 | 5 | 24317 | 445.80 | 5 | 26748 | 490.38 | 5 | 29423 |
| 10 | Deputy-Department Head/ Department Head Assistant(Operation) | 303.47 | 3 | 1 | 1517 | 333.81 | 5 | 20029 | 367.20 | 5 | 22032 | 403.92 | 5 | 24235 | 444.31 | 5 | 26658 |
| 11 | Technical Supervisor (Operation) | 272.07 | 1 | 2 | 2721 | 299.28 | 10 | 35914 | 329.21 | 10 | 39505 | 362.13 | 10 | 43456 | 398.34 | 10 | 47801 |

## Myanmar Conch Cement Co., Ltd

**Exhibit 6**

# Foreign Employee Schedule of Kyaukse Cement Factory, Myanmar

| NO. | Position | Expected Salary （USD/M） | 2014.7 | 2014.8-2014.12 | | Expected Salary （USD/M） | 2015 | | Expected Salary （USD/M） | 2016 | | Expected Salary （USD/M） | 2017 | | Expected Salary （USD/M） | 2018 | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary | | Headcount | Salary |
| 12 | Business Supervisor (Functional) | 261.61 | 3 | 3 | 3924 | 287.77 | 4 | 13813 | 316.55 | 4 | 15194 | 348.20 | 4 | 16714 | 383.02 | 4 | 18385 |
| 13 | Section Chief (Operation) | 282.54 | 0 | 0 | 0 | 310.79 | 15 | 55943 | 341.87 | 15 | 61537 | 376.06 | 15 | 67691 | 413.66 | 15 | 74460 |
| 14 | Operator(Key Position) | 230.22 | 0 | 0 | 0 | 253.24 | 6 | 18233 | 278.56 | 6 | 20056 | 306.42 | 6 | 22062 | 337.06 | 6 | 24268 |
| 15 | Professionals (Functional) | 230.22 | 3 | 5 | 5755 | 253.24 | 5 | 15194 | 278.56 | 5 | 16714 | 306.42 | 5 | 18385 | 337.06 | 5 | 20224 |
| 16 | Professionals (Operation) | 235.45 | 0 | 2 | 2354 | 258.99 | 5 | 15540 | 284.89 | 5 | 17094 | 313.38 | 5 | 18803 | 344.72 | 5 | 20683 |
| 17 | Support Staff (chef,etc.) | 167.43 | 2 | 2 | 1674 | 184.17 | 2 | 4420 | 202.59 | 2 | 4862 | 222.85 | 2 | 5348 | 245.13 | 2 | 5883 |
| **Sub-total:** | | | **22** | **31** | **43899** | | **71** | **261278** | | **67** | **270996** | | **67** | **298096** | | **67** | **327905** |